





Form (3)

# THE REPUBLIC OF THE UNION OF MYANMAR

## Myanmar Investment Commission

## PERMIT

Permit No. 033 /2017 Date 24th November 2017

This Permit is issued by the Myanmar Investment Commission according to the section 25, sub-section (c) of the Myanmar Investment Law:-

(1) Name of Investor MR. DEAN ALEXANDER MONTGOMERY

(2) Citizenship AUSTRALIAN

(3) Residence Address 15th FLOOR, KING PALACE PLAZA, 52 A SHA TSUI ROAD, TSUEN WAN, HONG KONG

(4) Name and Address of Principle Organization VOLUME TABLEWARE LTD. 15th FLOOR, KING PALACE PLAZA, 52 A SHA TSUI ROAD, TSUEN WAN, HONG KONG

(5) Place of Incorporation HONG KONG

(6) Type of Business PRODUCTION AND SALE OF PORCELAIN TABLEWARE PRODUCTS

(7) Place(s) at which investment is permitted HOLDING NO. 46, 47, 48, 58, 59(KA), 132, KWIN NO. 1254 TAIK GYI KONE, KYWE THET VILLAGE TRACT, THARYARWADDY TOWNSHIP, BAGO REGION

(8) Amount of Foreign Capital US$ 3.448 MILLION

(9) Period for Foreign Capital to be brought in WITHIN THREE YEARS FROM THE DATE OF ISSUANCE OF MIC PERMIT

(10) Total amount of capital (Kyat) EQUIVALENT IN KYAT OF US$ 3.448 MILLION

(11) Construction Period 6 MONTHS

(12) Validity of investment permit 50 YEARS

(13) Form of investment WHOLLY FOREGIN OWNED

(14) Name of Company incorporated in Myanmar VOLUME TABLEWARE (MYANMAR) LIMITED

24.11.17

Chairman

Myanmar Investment Commission




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၁၃၃/၂၀၁၇ ၂၀၁၇ ခုနှစ် ၊ နိုဝင်ဘာ လ ၂၄ ရက်

မြန်မာနိုင်ငံနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ဥပဒေပုဒ်မ ၂၅ ပုဒ်မခွဲ (ဂ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူ/ကမကထပြုသူအမည် MR. DEAN ALEXANDER MONTGOMERY

(၂) နိုင်ငံသား AUSTRALIAN

(၃) နေရပ်လိပ်စာ 15th FLOOR, KING PALACE PLAZA, 52 A SHA TSUI ROAD, TSUEN WAN, HONG KONG

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ VOLUME TABLEWARE LTD. 15th FLOOR, KING PALACE PLAZA, 52 A SHA TSUI ROAD, TSUEN WAN, HONG KONG

(၅) ဖွဲ့စည်းရာအရပ် HONG KONG

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား ကြွေထည်ပန်းကန်ခွက်ယောက်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) ဦးပိုင်အမှတ်-၄၆၊ ၄၇၊ ၄၈၊ ၅၈၊ ၅၉(က)၊ ၁၃၂၊ ကွင်းအမှတ်-၁၂၅၄ တိုက်ကြီးကုန်း၊ ကျွဲသတ်ကျေးရွာအုပ်စု၊ သာယာဝတီ မြို့နယ်၊ ပဲခူးတိုင်းဒေသကြီး

(၈) နိုင်ငံခြားမတည်ငွေရင်း ပမာဏ အမေရိကန်ဒေါ်လာ ၃.၄၄၈ သန်း

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ ခွင့်ပြုမိန့်ရရှိပြီးနေ့မှ ၃ နှစ် အတွင်း

(၁၀) စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်) အမေရိကန်ဒေါ်လာ ၃.၄၄၈ သန်း နှင့်ညီမျှသော မြန်မာကျပ်ငွေ

(၁၁) တည်ဆောက်မှုကာလ ၆ လ

(၁၂) ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း ၅၀ နှစ်

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည် VOLUME TABLEWARE (MYANMAR) LIMITED

24.11.17

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်




THE REPUBLIC OF THE UNION OF MYANMAR

**MYANMAR INVESTMENT COMMISSION**

No.1, Thitsar Road, Yankin Township, Yangon

Tel: 01- 658128
Fax: 01-658141

Our ref :MIC-3/P-003/2017(026 )
Date : 24[th] November 2017

**Subject:** **Decision of the Myanmar Investment Commission on the proposal for production and sale of porcelain tableware products under the name of Volume Tableware (Myanmar) Limited**

Reference: Volume Tableware (Myanmar) Limited's letter dated on 3[rd] August 2017

1. The Myanmar Investment Commission, at its meeting (15/2017) held on 10[th] November 2017, approved the permit for investment in production and sale of porcelain tableware products under the name of Volume Tableware (Myanmar) Limited submitted by Volume Tableware Ltd. (99.9998%) from Hong Kong and Mr. Adam John Montgomery (0.0002%) from Australia as wholly foreign owned investment in accordance with the Myanmar Investment Law and Rules.

2. The terms and conditions of the Permit are stated in the following paragraphs:

(a) The term of the Permitted project shall be fifty (50) years commencing from the date of the issuance of the permit by the Myanmar Investment Commission and extendable for ten (10) years with the approval of Myanmar Investment Commission.

(b) The term of the Lease Agreement for land and buildings shall be twenty-five (25) years commencing from the date of signing of the Lease Agreement between No.(2) Heavy Industry Enterprise, Ministry of Industry (Lessor) and Volume Tableware (Myanmar) Limited (Lessee) and extendable for two times for five (5) years respectively by mutual agreement between the Lessor and the Lessee subject to the approval of the Myanmar Investment Commission.

(c) The annual rent for the land shall be Kyat 186,000,000 (Kyat one hundred and eighty-six million only) of the land area measuring 11.49 acres of No.(34) Heavy Industry (Tharyarwaddy).

(d) Volume Tableware (Myanmar) Limited, which has obtained this permit to receive benefits relating to the right to use exemptions and reliefs under sections 75, 77 and 78 of the Chapter XVIII of Myanmar Investment Law, may submit the application form.

(e) Volume Tableware (Myanmar) Limited shall use its best efforts to achieve a timely realization of the work stated in the permit application.

(f) Volume Tableware (Myanmar) Limited shall obey and respect the responsibilities of investors under section 65 of Myanmar Investment Law and Chapter XX of Myanmar Investment Rules.

(g) Volume Tableware (Myanmar) Limited shall carry out prevention, mitigation and monitoring of significant environmental impacts according to the type of investment activities in accordance with the relevant laws, rules, regulations and procedures.

(h) Volume Tableware (Myanmar) Limited shall submit to the Commission of any transfer of share or transfer of the business to any person during the investment period in accordance with section 72 of Myanmar Investment Law and rule 191 of Myanmar Investment Rules.

(i) If Volume Tableware (Myanmar) Limited which has benefitted from the permit or exemptions and reliefs shall submit an annual report in the prescribed form to the Commission within three (3) months of the end of the financial year in accordance with rule 196 of Myanmar Investment Rules and shall publish a summary of report on its website or the Commission's website.

(j) Volume Tableware (Myanmar) Limited must, during the operation period under the permit of the Commission, submit its operating report quarterly in the prescribed form in accordance with rule 197 of Myanmar Investment Rules.

3. Volume Tableware (Myanmar) Limited shall submit five (5) copies of all approvals, licences, permits and similar authorizations relevant to the initial implementation of the investment and Lease Agreement to the Commission.

24.11.17

(Kyaw Win)
Chairman

**Volume Tableware (Myanmar) Limited**

cc: 1. Office of the Union Government of the Republic of the Union of Myanmar
2. Ministry of Home Affairs

3. Ministry of Natural Resources and Environmental Conservation
4. Ministry of Industry
5. Ministry of Labour, Immigration and Population
6. Ministry of Commerce
7. Ministry of Planning and Finance
8. Central Bank of Myanmar
9. Bago Investment Committee
10. Office of the Bago Region Government
11. Director General, Department of Environmental Conservation
12. Director General, Directorate of Labour
13. Director General, Immigration Department
14. Director General, Directorate of Trade
15. Director General, Internal Revenue Department
16. Director General, Customs Department
17. Director General, Directorate of Investment and Company Administration
18. Director General, National Archives Department
19. Managing Director, No.(2) Heavy Industries Enterprise
20. Bago Region Office, Directorate of Investment and Company Administration

ကုမ္ပဏီအမည် - Volume Tableware (Myanmar) Limited

လုပ်ငန်း - ကြွေထည်ပန်းကန်ခွက်ယောက်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | ပြန်ကြားသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၃-၈-၂၀၁၇ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန | ၁၆-၈-၂၀၁၇ | ၂၃-၈-၂၀၁၇ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေးသို့ တင်ပြခြင်း | ၁၄-၈-၂၀၁၇ | | |
| ၄ | အဆိုပြုချက်လက်ခံကြောင်း အကြောင်းကြားခြင်း | ၁၆-၈-၂၀၁၇ | | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့(၂၁/၂၀၁၇)ကြိမ်မြောက်အစည်းအဝေးဆုံးဖြတ်ချက်အား ကုမ္ပဏီသို့အကြောင်းကြားခြင်း | ၁၇-၈-၂၀၁၇ | | |
| ၆ | စက်မှုဝန်ကြီးဌာနမှ လိုအပ်သည့် မြေအထောက်အထားများပေးပို့ခြင်း | ၂၆-၁၀-၂၀၁၇ | | |
| ၇ | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်၍ အဆိုပြုလွှာ(၁၀)စုံတင်ပြခြင်း | ၂၆ -၁၀-၂၀၁၇ | | |
| | **စုစုပေါင်းကြာမြင့်ရက်(၈၃) ရက်** | | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Volume Tableware (Myanmar) Limited |
| အဖွဲ့အစည်း | - | ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | ကြွေထည်ပန်းကန်ခွက်ယောက်များ ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - | စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစား စက်မှုလုပ်ငန်းပိုင် အမှတ်(၃၄) အကြီးစားစက်ရုံ (သာယာဝတီ)၊ ဦးပိုင်အမှတ်-၄၆၊ ၄၇၊ ၄၈၊ ၅၈၊ ၅၉(က)၊ ၁၃၂၊ကွင်းအမှတ်-၁၂၅၄ တိုက်ကြီးကုန်း၊ကျွဲသတ်ကျေးရွာအုပ်စု၊ သာယာဝတီ မြို့နယ်၊ ပဲခူးတိုင်းဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | အမေရိကန်ဒေါ်လာ ၃.၄၄၈ သန်း |
| ရောင်းချမည့်စနစ် | - | ၁၀၀% ပြည်ပသို့ တင်ပို့ရောင်းချမည် ဖြစ်ပါသည်။ |
| လုပ်ငန်းသက်တမ်း | - | ကနဦး ၅၀ နှစ်(သက်တမ်းတိုး ၁၀ နှစ် ၁ ကြိမ်) |
| အရင်းကြေကာလ | - | ၃ နှစ် |
| IRR | - | ၂၈ % |

အထက်ပါ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ Cost & Benefitကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါ သည်။

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ကျပ် ၃.၀၀ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ကျပ် ၀.၆၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၁၀၃.၉၆၄ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၁၈၉၅.၀၄ သန်း | ကျပ် ၂၄၃၄.၄၆ သန်း |
| ၆ | ရေ၊လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၁၂၁၀.၇၂ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း (၄၈)ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း ၁ ဦး |
| ၈ | CSR (၂%) | | ကျပ် ၂၅၀.၀၄ သန်း |
| ၉ | မြေငှားရမ်းခ | | ကျပ် ၁၃၀၂.၀၀ သန်း |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၁၇၂ ဦး<br>ပြည်တွင်းလုပ်သား ၁၇၂ ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။<br>အလုပ်အကိုင်အခွင့်အလမ်းပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှုလျှော့ချရေးကိုအထောက်အကူပြုစေနိုင်ပါသည်။ |
| | | ကျပ် ၂၀၀၂.၀၀၄ သန်း | ကျပ် ၁၂၃၄.၄၆၅ သန်း |
| | | ၁:၃ | |

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Volume Tableware (Myanmar) Ltd. မှ ကြွေထည်ပန်းကန်ခွက်ယောက်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Volume Tableware (Myanmar) Ltd.<br>-Mr. Dean Alexander Montgomery (ဩစတြေးလျ) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု<br>- Volume Tableware Ltd. (ဟောင်ကောင်) ၉၉.၉၉၉၈%<br>- Mr. Adam John Montgomery (ဩစတြေးလျနိုင်ငံသား) ၀.၀၀၀၂% |
| | လုပ်ငန်းအမျိုးအစား | - ကြွေထည်ပန်းကန်ခွက်ယောက်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း |
| ၂။ | တည်နေရာ | - စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစား စက်မှုလုပ်ငန်းပိုင် အမှတ်(၃၄) အကြီးစားစက်ရုံ (သာယာဝတီ)၊ ဦးပိုင်အမှတ်-၄၆၊ ၄၇၊ ၄၈၊ ၅၈၊ ၅၉(က)၊ ၁၃၂၊ ကွင်းအမှတ်-၁၂၅၄ တိုက်ကြီးကုန်း၊ကျွဲသတ်ကျေးရွာအုပ်စု၊သာယာဝတီမြို့နယ်၊ ပဲခူးတိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း |
| | မြေအကျယ်အဝန်း | - ၇၅ဧကအနက် ၁၁.၄၉ဧက(၄၆၄၉၈.၄၂၁ စတုရန်းမီတာ)<br>- ၄၉၂ ပေ x ၂၂၉ ပေ x ၂၀ ပေ အဆောက်အဦ ၁ လုံး<br>- ၁၉၆ ပေ x ၆၃ ပေ x ၁၅ ပေ အဆောက်အဦ ၁ လုံး<br>- ၁၃၂ ပေ x ၅၈ ပေ x ၁၆ ပေ အဆောက်အဦ ၁ လုံး<br>- ၁၃၂ ပေ x ၆၆ ပေ x ၁၆ ပေ အဆောက်အဦ ၁ လုံး |
| ၃။ | နှစ်စဉ်မြေနှင့် အဆောက်အဦငှားရမ်းခ | - တစ်နှစ်လျှင် ကျပ် ၁၈၆ သန်း |
| | မြေငှားသက်တမ်း | - ကနဦး၂၅ နှစ် (သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်) |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၁ ကြိမ်) |
| | တည်ဆောက်ရေးကာလ | - ၆ လ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၃.၄၄၈ သန်း<br>- (အမေရိကန် ၁ဒေါ်လာလျှင် မြန်မာငွေ ၁၃၆၅ ကျပ်ဖြင့် တွက်ချက်ထားပါသည်။ |
| | ထည့်ဝင်သည့် အမျိုးအစား | - US$ သန်း |
| | ငွေသား | ၁.၂၃၇ |
| | စက်နှင့်စက်ပစ္စည်းတန်ဖိုး(ပြည်ပ) | ၁.၅၈၀ |
| | အခြား | ၀.၆၃၁ |
| | စုစုပေါင်း | **၃.၄၄၈** |
| ၆။ | ဝန်ထမ်းအင်အား စုစုပေါင်း(ပထမနှစ်) | - ၁၇၂ ဦး ပြည်တွင်းမှ ဝန်ထမ်းများမှာ စက်မှုဝန်ကြီးဌာနမှ ဖြစ်ပြီး ဝန်ထမ်းလစာအတိုင်းဖြစ်ပါသည်။ |

| | | |
|---|---|---|
| | ပြည်တွင်း | - ၁၇၂ ဦး (ပြည်တွင်းအနိမ့်ဆုံး ဝန်ထမ်းတစ်ဦး လစာမှာ ကျပ်၁၄၁,၀၀၀ အမြင့်ဆုံးဝန်ထမ်းတစ်ဦး လစာမှာ ကျပ် ၄၀၀,၀၀၀) |
| ၇။ | ရောင်းချမည့်စနစ် | - ၁၀၀ % ပြည်ပတင်ပို့ခြင်း |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ်) | - US$ ၁၁.၄၇ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် (ဆဋ္ဌမနှစ်) | - US$ ၉.၁၃ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (ဆဋ္ဌမနှစ်) | - US$ ၂.၃၄ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ်(ဆဋ္ဌမနှစ်) ဝင်ငွေခွန် | - US$ ၀.၇၈ သန်း |
| ၁၀။ | နှစ်စဉ်လျှပ်စစ်ဓါတ်အားသုံးစွဲမှု(ပထမနှစ်) | - ၂၅၄,၂၂၀ kWh |
| ၁၁။ | ပထမနှစ် ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း | |
| | **အမျိုးအစား** | **ထုတ်လုပ်မှု (Unit)** / **ရောင်းဈေးနှုန်း (US $/Unit)** |
| | Plate | ၁,၇၀၀,၀၀၀ / ၀.၈၀ |
| | Cup | ၁,၉၂၀,၀၀၀ / ၀.၄၀ |
| | Bowl | ၁,၆၀၀,၀၀၀ / ၀.၅၀ |
| ၁၂။ | အခြား | - Volume Tableware (Myanmar) Ltd. ၏ MOA နှင့် AOA မူကြမ်း၊ ရင်းနှီးမြှုပ်နှံသူ၏နိုင်ငံကူးလက်မှတ်မိတ္တူ တို့ကို တင်ပြထားပါသည်။<br>- Volume Tableware (Myanmar) Ltd. မှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီရင်ခံစာ (Environmental Management Plan-EMP)မူကြမ်းအား ရေးဆွဲတင်ပြထားပါသည်။<br>- မြေပိုင်ရှင် စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှု လုပ်ငန်း နှင့် မြေငှားသူ Volume Tableware (Myanmar) Ltd. တို့ ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)၊ မြေငှားစာချုပ် အပေါ် ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏မှတ်ချက်၊ စက်ရုံ Layout Plan၊ စက်ရုံမှလွှဲပြောင်းယူမည့် စက်ပစ္စည်း စာရင်း နှင့် ဝန်ထမ်းစာရင်း တို့ကိုလည်း တင်ပြထားပါသည်။<br>- ဝန်ထမ်းသက်သာ ချောင်ချိရေးအစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်နှင့် လုပ်ငန်းမှရရှိမည့် အသားတင် အမြတ်၏ ၂%အား အသုံးပြုမည့် လူမှုဘဝသာယာဝပြောရေး အစီအစဉ်တို့အား တင်ပြထားပါသည်။<br>- မိခင်ကုမ္ပဏီ Volume Tableware Ltd. သည် ဟောင်ကောင် တွင် ၂-၈-၂၀၁၇ ရက်စွဲဖြင့် ဖွဲ့စည်းထားသော ကုမ္ပဏီ ဖြစ်ကြောင်း Business License အား တင်ပြထား ပါသည်။ |

| | | |
|---|---|---|
| | | - ငွေရေးကြေးရေးအထောက်အထားအဖြစ် Volume Tableware Ltd. သည် ဟောင်ကောင်ရှိ HSBC Bankတွင် ၁-၁၂-၂၀၁၆ မှ ၂၈-၂-၂၀၁၇ ထိ US$ ၂,၂၅၆,၅၅၃.၃၇ ရှိကြောင်း ထောက်ခံစာ၊ Volume Tableware Ltd. ၏ ၂၀၁၄ခုနှစ်နှင့် ၂၀၁၅ ခုနှစ် စာရင်းစစ်အစီရင်ခံစာ တို့ကို တင်ပြထားပါသည်။<br>- ဟောင်ကောင်ရှိ မိခင်ကုမ္ပဏီ Volume Tableware Ltd. သည် မြန်မာနိုင်ငံတွင် ကုမ္ပဏီတည်ထောင်၍ ဆောင်ရွက်မည်ဖြစ်ကြောင်းနှင့် ယခု ကမကထပြုသူအား ယင်းကုမ္ပဏီတွင် တာဝန်ပေးကြောင်း ဆုံးဖြတ်ထားသည့် ဒါရိုက်တာအဖွဲ့ အစည်း အဝေးမှတ်တမ်းအား တင်ပြထားပါသည်။<br>- ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းစာရင်း၊ ကုန်ကြမ်းစာရင်းနှင့် တင်သွင်းမည့် နိုင်ငံများကို တင်ပြထားပါသည်။<br>- ထုတ်လုပ်မည့် လုပ်ငန်းစဉ်အဆင့်ဆင့်အား တင်ပြထားပါသည်။<br>- ကုန်ကြမ်းများအား တရုတ်နိုင်ငံမှ တင်သွင်းပြီး ထွက်ရှိလာသည့် ကုန်ချောများအား ဥရောပ၊ အမေရိကန်နှင့် ဩစတြေးလျနိုင်ငံများသို့ ရောင်းချမည်ဖြစ်ပါသည်။<br>- အင်္ဂလန်နိုင်ငံတွင် မှတ်ပုံတင်ထားသည့် Nisbets Plcမှ Volume Tableware (Myanmar) Ltd.သို့ ပန်းကန်ခွက်ယောက်များတွင် ၎င်းတို့၏ကုန်အမှတ်တံဆိပ်များ ဖြစ်သော OLYMPIA, Lumina Fine China နှင့် Athena Hotelware တို့ကို ရိုက်နှိပ်ထုတ်လုပ် ခွင့်ပြုထားကြောင်း တင်ပြထားပါသည်။ |
| ၁၃။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ကန့်သတ်သည့်ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများစာရင်းတွင် ပါဝင်ခြင်းမရှိပါကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ISIC Code. 2393 တွင် အကျုံးဝင်ပါသည်။<br>- လုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင်ပါဝင်နေပြီး လုပ်ငန်းဆောင်ရွက်မည့် တည်နေရာသည် ဇုန် (၂) ဖွံ့ဖြိုးမှု အသင့်အတင့်ရှိသော ဒေသတွင် တည်ရှိပါသည်။<br>- လုပ်ငန်းဆောင်ရွက်မည့် မြေနေရာမှာ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းပိုင် အမှတ်(၃၄)အကြီးစားစက်ရုံ (သာယာဝတီ) ဖြစ်ပြီး Family United Power Co., Ltd. နှင့် Volume Tableware (Myanmar) Ltd. တို့သို့ ပူးတွဲငှားရမ်းထားကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - Family United Power Co., Ltd. သည် ယင်းစက်ရုံတည်နေရာဖြင့် ကော်မရှင်ခွင့်ပြုမိန့်အမှတ် မနသ-၉၅၂/၂၀၁၇ (၂၇-၁-၂၀၁၄) အား ကြွေပြား၊ ပန်းကန်နှင့် ရေအိမ်သုံးပစ္စည်း ထုတ်လုပ်ခြင်း လုပ်ငန်းဖြင့် ရရှိထားပြီးဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၃/ခ-၀၀၃/၂၀၁၇ ( ၇၅ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် နိုဝင်ဘာ လ ၁ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြမည့်အမှာစာ**

အကြောင်းအရာ။ **Volume Tableware (Myanmar) Ltd. မှ ကြွေထည်ပန်းကန် ခွက်ယောက်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ**

၁။ ဟောင်ကောင် Volume Tableware Ltd. မှ ၉၉.၉၉၉၈% နှင့် ဩစတြေးလျနိုင်ငံသား Mr. Adam John Montgomery မှ ၀.၀၀၀၂ % ထည့်ဝင်ကာ မြန်မာနိုင်ငံတွင် Volume Tableware (Myanmar) Ltd. တည်ထောင်ကာ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းပိုင် အမှတ်(၃၄) အကြီးစားစက်ရုံ (သာယာဝတီ)၊ ဦးပိုင်အမှတ်-၄၆၊ ၄၇၊ ၄၈၊ ၅၈၊ ၅၉(က)၊ ၁၃၂၊ ကွင်းအမှတ်-၁၂၅၄ တိုက်ကြီးကုန်း၊ ကျွဲသတ်ကျေးရွာအုပ်စု၊ သာယာဝတီမြို့နယ်၊ ပဲခူးတိုင်းဒေသကြီးရှိ မြေဧရိယာ ၇၅ ဧက အနက်မှ ၁၁.၄၉ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများအား ငှားရမ်း၍ ကြွေထည်ပန်းကန်ခွက်ယောက်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် စက်မှုဝန်ကြီး ဌာနမှ တစ်ဆင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ကနဦး ၅၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၁ ကြိမ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၆ လ ဖြစ်ပါသည်။

၃။ လုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၃.၄၄၈ သန်းဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမည့် အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | အမေရိကန်ဒေါ်လာ(သန်း) |
|---|---|---|
| (က) | ငွေသား | ၁.၂၃၇ |
| (ခ) | စက်ပစ္စည်း | ၁.၅၈၀ |
| (ဂ) | အခြား | ၀.၆၃၁ |
| | စုစုပေါင်း | ၃.၄၄၈ |

၄။ အဆိုပြုလုပ်ငန်းအတွက် ပြည်တွင်းဝန်ထမ်း ၁၇၂ ဦးခန့်ထားမည်ဖြစ်ပြီး စက်မှုဝန်ကြီးဌာနမှ ဝန်ထမ်းများဖြစ်သည့်အတွက် ဝန်ထမ်းလစာအတိုင်း ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၄၁,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၄၀၀,၀၀၀ ဖြစ်ပါသည်။

၅။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၆နှစ်မြောက်)တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ တဖက်ပါအတိုင်းဖြစ်ပါသည်-

အမေရိကန်ဒေါ်လာ(သန်း)

| | | |
|---|---|---|
| (က) | ဝင်ငွေ | ၁၁.၄၇ |
| (ခ) | အသုံးစရိတ် | ၉.၁၃ |
| (ဂ) | အသားတင်အမြတ် | ၂.၃၄ |

၆။ နိုင်ငံတော်မှ ပုံမှန်နှစ်(ဖြန့်ခြောက်)တွင် ရရှိမည့်အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၇၈ သန်းဖြစ်ပါသည်။

၇။ ယင်းအဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံခဲ့ရာ **ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** နှင့် **ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP)** အစီရင်ခံစာ ရေးဆွဲတင်ပြရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

၈။ ငွေရေးကြေးရေးအထောက်အထားအဖြစ် Volume Tableware Ltd. သည် ဟောင်ကောင်ရှိ HSBC Bankတွင် ၁-၁၂-၂၀၁၆ မှ ၂၈-၂-၂၀၁၇ ထိ US$ ၂,၂၅၉,၅၅၃.၃၇ ရှိကြောင်း ထောက်ခံစာအား တင်ပြထားပါသည်။

၉။ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန် ဆောင်ရွက်မည့်အစီအစဉ်များကို တင်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းမှ ရရှိမည့် အသားတင်အမြတ်၏၂% အား CSRအတွက် သုံးစွဲသွားမည်ဖြစ်ပြီး လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးအစီအဉ်များအား တင်ပြထားပါသည်။

၁၁။ ကုန်ကြမ်းများအား တရုတ်နိုင်ငံမှ တင်သွင်းပြီး ထွက်ရှိလာသည့် ကုန်ချောများအား ဥရောပ၊ အမေရိကန်နှင့် ဩစတြေးလျနိုင်ငံများသို့ ရောင်းချမည်ဖြစ်ပါသည်။

၁၂။ အင်္ဂလန်နိုင်ငံတွင် မှတ်ပုံတင်ထားသည့် Nisbets Plcမှ Volume Tableware (Myanmar) Ltd.သို့ ပန်းကန်ခွက်ယောက်များတွင် ၎င်းတို့၏ကုန်အမှတ်တံဆိပ်များ ဖြစ်သော OLYMPIA, Lumina Fine China နှင့် Athena Hotelware တို့ကို ရိုက်နှိပ်ထုတ်လုပ်ခွင့်ပြုထားကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၃။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) လုပ်ငန်းဆောင်ရွက်မည့် မြေနေရာမှာ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းပိုင် အမှတ်(၃၄) အကြီးစားစက်ရုံ (သာယာဝတီ) ဖြစ်ပြီး စုစုပေါင်း ၇၅ ဧကရှိ၍ Family United Power Co., Ltd.နှင့် Volume Tableware (Myanmar) Ltd. တို့သို့ ပြည်ထောင်စုအစိုးရအဖွဲ့၏ ၁၅/၂၀၁၆ (၁၀-၁၁-၂၀၁၆) ကြိမ်မြောက် အစည်းအဝေး၏ ခွင့်ပြုချက်ဖြင့် ပူးတွဲငှားရမ်းထားကြောင်း တင်ပြထားပါသည်။

(ခ) ကြွေပြားထုတ်လုပ်သည့်လိုင်း မြေဧရိယာ ၆၃.၅၇ ဧကအား Family United Power Co., Ltd. သို့လည်းကောင်း၊ ပန်းကန်နှင့်ရေအိမ်သုံးပစ္စည်းထုတ်လုပ်သည့်လိုင်း မြေဧရိယာ ၁၁.၄၉ ဧကအား Volume Tableware (Myanmar) Ltd. သို့လည်းကောင်း နှစ်ရှည်ရင်းနှီးမြှုပ်နှံဆောင်ရွက်ခွင့်နှင့် Family United Power Co., Ltd. မှ ၎င်းရရှိထားသော ကော်မရှင် ခွင့်ပြုမိန့်အမှတ် မနသ-၉၅၂/၂၀၁၇ (၂၇-၁-၂၀၁၄) တွင် မြေဧရိယာလျှော့ချခြင်းနှင့် လုပ်ငန်းလျှော့ချခြင်း ပြင်ဆင်ပေးပါရန် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း များကြီးကြပ်ရေးဌာနခွဲသို့ တင်ပြထားပါသည်။

(ဂ) မြေပိုင်ရှင် စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှု လုပ်ငန်းနှင့် မြေငှားသူ Volume Tableware (Myanmar) Ltd. တို့ ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)၊ မြေငှားစာချုပ်အပေါ် ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏မှတ်ချက်တို့ကို တင်ပြထားပါသည်။

(ဃ) အဆိုပြုလုပ်ငန်းအား ၂၀၁၇ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက်စိစစ်ရေး အဖွဲ့၏ ၂၁/၂၀၁၇ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီး ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ဥပဒေကြောင်းအရ ကိုက်ညီမှု ရှိ-မရှိ စိစစ်ပြီးဖြစ်ပါသည်။

(င) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၆အရ အဆိုပြုချက်တင်ပြရန် လိုအပ်သော လုပ်ငန်းဖြစ်ပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် ၁၃/၂၀၁၇ အရ ထုတ်ပြန်ထားသည့် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၄။ သို့ဖြစ်ပါ၍ Volume Tableware (Myanmar) Ltd. မှ ကြွေထည်ပန်းကန်ခွက်ယောက်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုချက်တင်ပြလာခြင်းအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၅-စမ(၂)၂၀၁၇-၂၀၁၈(၇၀၈)
ရက် စွဲ၊ ၂၀၁၇ ခု နှစ်၊ ဇွန်လ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့်ရရှိရေး ထောက်ခံချက်ပေးပို့ခြင်းကိစ္စ**

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းရှိ အမှတ်(၃၄)အကြီးစားစက်ရုံ (သာယာဝတီ)အား Family United Power Co.,Ltd. သို့ (၅၀+၁၀+၁၀)နှစ်ဖြင့် နှစ်ရှည် ငှားရမ်းခွင့်ကို ၂၈.၉.၂၀၁၅ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ (၁၇/၂၀၁၅)ကြိမ်မြောက်အစည်းအဝေးမှ ခွင့်ပြုခဲ့ပါသည်။

၂။ အမှတ်(၃၄)အကြီးစားစက်ရုံ(သာယာဝတီ)တွင် ကြွေပြားထုတ်လုပ်မှုလိုင်းနှင့် ပန်းကန်နှင့်ရေအိမ်သုံးပစ္စည်းထုတ်လုပ်မှုလိုင်းဟူ၍ ကုန်ထုတ်လိုင်း(၂)လိုင်းဖြင့် ဆောင်ရွက်လျက်ရှိရာ Family United Power Co.,Ltd. အနေဖြင့် ကြွေပြားများကို ပုံမှန်ထုတ်လုပ်လျက်ရှိသော်လည်း ပန်းကန်နှင့်ရေအိမ်သုံးထုတ်လုပ်မှုလိုင်းတွင် ထုတ်လုပ်ရန် နည်းပညာအခက်အခဲရှိပါသဖြင့် အဆိုပါလိုင်းအား ပြန်လည်အပ်နှံပြီး ကြွေပြားထုတ်လုပ်မှုလိုင်းကို ဆက်လက်ငှားရမ်းခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် ၁၀.၁.၂၀၁၆ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၁၅/၂၀၁၆)မှ ကြွေပြားထုတ်လုပ်မှုလိုင်းအား Family United Power Co.,Ltd သို့လည်းကောင်း၊ ပန်းကန်နှင့်ရေအိမ်သုံးပစ္စည်းထုတ်လုပ်မှုလိုင်းအား Volume Tableware (Myanmar)Ltd. သို့လည်းကောင်း နှစ်ပိုင်းခွဲခြား ငှားရမ်းရန် သဘောတူခွင့်ပြုခဲ့ပါသည်။

၃။ အဆိုပါစက်ရုံအား ကုမ္ပဏီ(၂)ခုသို့ နှစ်ပိုင်းခွဲခြား၍ ငှားရမ်းနိုင်ရေးအတွက် သဘောတူ စာချုပ်(မူကြမ်း)များအား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အကြံပြုချက် များအတိုင်း ပြင်ဆင်ပြုစုခဲ့ပြီး ဖြစ်ပါသည်။

၄။ သို့ပါ၍ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃၄)အကြီးစားစက်ရုံ(သာယာဝတီ)ရှိ ပန်းကန်နှင့် ရေအိမ်သုံးပစ္စည်းထုတ်လိုင်းအား ဆောင်ရွက်မည့် Volume Tableware (Myanmar)Ltd. သို့ လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့်ရရှိရေး လိုအပ်သည်များ စီစဉ်ဆောင်ရွက်ပေးနိုင်ပါရန် စာချုပ် (မူကြမ်း)နှင့် Proposal တို့ကို ပူးတွဲ၍ ထောက်ခံပေးပို့အပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန်)

D/ Jun 2017.doc-34



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

M-1020
7/9

စာအမှတ်၊ ၁၅-စမ(၂)၂၀၁၇-၂၀၁၈(၁၄၃၈)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဩဂုတ်လ ၃၀ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **အမှတ်(၃၄)အကြီးစားစက်ရုံ(သာယာဝတီ)အား (၂)ပိုင်းခွဲခြားငှားရမ်းခြင်းကိစ္စ**

၁။ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ အမှတ်(၃၄)အကြီးစားစက်ရုံ(သာယာဝတီ)၊ မြေ(၇၅)ဧကကို Family United Power Co.,Ltd. သို့ ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၅/၂၀၁၄)ဖြင့်လည်းကောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၇/၂၀၁၅)ဖြင့်လည်းကောင်း (၅၀+၁၀+၁၀)နှစ်ဖြင့် နှစ်ရှည်ငှားရမ်းဆောင်ရွက်ခဲ့ပါသည်။

၂။ Family United Power Co.,Ltd. အနေဖြင့် စက်ရုံတွင် ကြွေပြားထုတ်လုပ်မှုလိုင်းနှင့် ပန်းကန်နှင့်ရေအိမ်သုံးပစ္စည်းထုတ်လုပ်မှုလိုင်းဟူ၍ လိုင်း(၂)လိုင်းဖြင့် ဆောင်ရွက်ခဲ့ရာတွင် ပန်းကန်နှင့် ရေအိမ်သုံးပစ္စည်းထုတ်လုပ်သည့်လိုင်းတွင် ကြွေထည်ကုန်ချောများအား အဆင့်မီထုတ်လုပ်နိုင်ရန်အတွက် နည်းပညာအခက်အခဲများရှိလာပါသဖြင့် ယင်းလိုင်းအား ပြန်လည်အပ်နှံပြီး ကြွေပြားထုတ်လုပ်မှုလိုင်းအား ယခင်ငှားရမ်းကာလအတိုင်း ဆက်လက်ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာပါသည်။

၃။ အမှတ်(၃၄)အကြီးစားစက်ရုံ(သာယာဝတီ)ရှိ ကြွေပြားထုတ်လုပ်မှုလိုင်း၊ မြေဧရိယာ(၆၃.၇၅)ဧကအား Family United Power Co.,Ltd. သို့ တစ်နှစ်လျှင် ကနဦးငှားရမ်းခငွေကျပ်(၁၂၄)သန်း၊ (၅၀+၁၀+၁၀)နှစ်ဖြင့်လည်းကောင်း၊ ပန်းကန်နှင့်ရေအိမ်သုံးပစ္စည်းထုတ်လုပ်မှုလိုင်း၊ မြေဧရိယာ(၁၁.၂၅)ဧကအား Volume Tableware (Myanmar)Ltd. သို့ တစ်နှစ်လျှင် ကနဦးငှားရမ်းခငွေ ကျပ်(၁၈၆)သန်း၊ (၂၅+၅+၅)နှစ်ဖြင့်လည်းကောင်း ငှားရမ်းဆောင်ရွက်ခွင့်ကို ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်(၁၅/၂၀၁၆)မှ သဘောတူခွင့်ပြုခဲ့ပါသည်။၎င်းစာမိတ္တူကို ပူးတွဲပေးပို့အပ်ပါသည်။

၄။ Family United Power Co.,Ltd. အမည်မှ Family United Power Group of Co.,Ltd. အမည်ဖြင့် ပြင်ဆင်ပြောင်းလဲခွင့်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၉.၅.၂၀၁၇ ရက်စွဲဖြင့် ခွင့်ပြုခဲ့ပါသည်။

၅။ သို့ပါ၍ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ အမှတ်(၃၄)အကြီးစား စက်ရုံ(သာယာဝတီ)ရှိ ကြွေပြားထုတ်လုပ်သည့်လိုင်း၊ **မြေဧရိယာ(၆၃.၇၅)ဧကအား** Family United Power Group of Co.,Ltd. သို့လည်းကောင်း၊ ပန်းကန်နှင့်ရေအိမ်သုံးပစ္စည်း ထုတ်လုပ်မှုလိုင်း၊ **မြေဧရိယာ(၁၁.၂၅)ဧကအား** Volume Tableware (Myanmar)Ltd. သို့လည်းကောင်း နှစ်ရှည်ရင်းနှီးမြှုပ်နှံဆောင်ရွက်ခွင့်ပြုပါရန် စက်ရုံ၏ မြေယာပိုင်ဆိုင်မှု ပုံစံ (၁၀၅/၁၀၆)နှင့် စက်ရုံ Layout Plan တို့ကို ပူးတွဲ၍ ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်ထောင်စုအစိုးရအဖွဲ့

စာအမှတ်၊ ၁၈ / ၁၆၈ / အဖရ (၁၅/ ၂၀၁၆)။
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ ၂၅ ရက်။

**အ မှာ စာ**

အကြောင်းအရာ။ **အမှတ်(၃၄)အကြီးစားစက်ရုံ(သာယာဝတီ)အား ကုန်ထုတ်လိုင်း(၂)လိုင်း ခွဲခြားငှားရမ်းခွင့်ပြုပါရန် တင်ပြခြင်း။**

၁။ ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ ၁၀ ရက် (ကြာသပတေး)နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၅/၂၀၁၆) မှတ်တမ်းကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်းပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

ဇော်သန်းသင်း
အတွင်းရေးမှူး

**ပြည်ထောင်စုဝန်ကြီး**
**စက်မှုဝန်ကြီးဌာန**

၁၈။ အမှတ်(၃၄)အကြီးစားစက်ရုံ(သာယာဝတီ)အား ကုန်ထုတ်လိုင်း (၂)လိုင်း ခွဲခြားငှားရမ်းခွင့်ပြုပါရန် တင်ပြခြင်း။

စက်မှုဝန်ကြီးဌာန၏ ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ ၃ ရက် နေ့စွဲပါ စာအမှတ်၊ ၁၅-စမ (၂) ၂၀၁၆-၂၀၁၇ (၁၉၆၉)။

စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ အမှတ်(၃၄) အကြီးစားစက်ရုံ(သာယာဝတီ)ရှိကြွေပြားထုတ်လုပ်မှုလိုင်းအား Family United Power Co., Ltd. သို့ ကနဦးငှားရမ်းခ တစ်နှစ်လျှင် ငွေကျပ် (၁၂၄.၀၀၀)သန်းဖြင့် မူလငှားရမ်းကာလ (၅၀+၁၀+၁၀)နှစ်ဖြင့်လည်းကောင်း၊ ပန်းကန်နှင့် ရေအိမ်သုံးပစ္စည်းထုတ်လုပ်သည့်လိုင်းအား Volume Tableware (Myanmar) Ltd. သို့ ကနဦးငှားရမ်းခ တစ်နှစ်လျှင်ငွေကျပ် (၁၈၆.၀၀၀)သန်း၊ (၂၅+၅+၅) နှစ်ဖြင့်လည်းကောင်း ငှားရမ်းခွင့်ပြုရန် သဘောတူကြသည်။ ဆောင်ရွက်ရန်၊ စက်မှု။

# အမှတ်(၃၄)အကြီးစားစက်ရုံ (သာယာဝတီ)

## Layout Plan






 Family United Power သို့ ငှားရမ်းမည့် ဧရိယာ (၆၃. ၇၅) ဧက

 Land (11.25)acres





M. ၉၉၆
2518

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၁၁/ MIC(OSS) /၀၁(၁၅၇/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဩဂုတ်လ ၂၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Volume Tableware (Myanmar) Ltd. မှ ကြွေထည် ပန်းကန်ခွက်ယောက်များ ထုတ်လုပ်ခြင်းနှင့် ပြည်ပသို့တင်ပို့ခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း ၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၈-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၃/ ခ-၀၀၃/၂၀၁၇ (၀၁၃)

၁။ ဟောင်ကောင် Volume Tableware Ltd. မှ ၉၉.၉၉၈% နှင့်ဩစတြေးလျနိုင်ငံသား Mr. Adam John Montgomery မှ ၀.၀၀၂% ထည့်ဝင်ကာ မြန်မာနိုင်ငံတွင် Volume Tableware (Myanmar) Ltd. တည်ထောင်ကာစက်မှုဝန်ကြီးဌာန၊ အမှတ်- ၂ အကြီးစားစက်မှုလုပ်ငန်းပိုင် ပဲခူးတိုင်းဒေသကြီး၊ သာယာဝတီမြို့နယ်၊ အမှတ်- ၃၄ အကြီးစားစက်ရုံ (သာယာဝတီ) ရှိ မြေဧရိယာ ၇၅ ဧကအနက်မှ ၁၁.၂၅ ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများကို ငှားရမ်း၍ ကြွေထည် ပန်းကန်ခွက်ယောက်များ ထုတ်လုပ်ခြင်းနှင့် ပြည်ပသို့တင်ပို့ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရေးအတွက် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ စုံစမ်းမေးမြန်းလာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင်အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင်ရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၂၅) နှစ်ဖြစ်ပြီး၊ တည်ဆောက်ပြင်ဆင်ရေးကာလမှာ (၆) လ ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအတွက် အမှတ်- ၂ အကြီးစား စက်မှုလုပ်ငန်းပိုင် ပဲခူးတိုင်းဒေသကြီး၊ သာယာဝတီမြို့နယ်၊ အမှတ်- ၃၄ အကြီးစားစက်ရုံ (သာယာဝတီ)ရှိ မြေဧရိယာ ၇၅ ဧကအနက်မှ ၁၁.၂၅ ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများအား ငှားရမ်း၍ ကြွေထည် ပန်းကန်ခွက်ယောက်များ ထုတ်လုပ်ခြင်းနှင့် ပြည်ပသို့တင်ပို့ခြင်းလုပ်ငန်း ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းအတွက် အမှတ်- ၂ အကြီးစားစက်မှုလုပ်ငန်းနှင့် Volume Tableware (Myanamar)Ltd. တို့အကြား ချုပ်ဆိုမည့်သဘောတူစာချုပ်မူကြမ်း ဖော်ပြပါရှိပါကြောင်း၊

(ဃ) ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် Plat, Cup နှင့် Bowl (၃) မျိုးအား အရေအတွက် (၅၂) သိန်းမှ (၁၀) နှစ်အတွင်း သိန်း (၃၀၀) ကျော် တန်ချိန်ပေါင်း (၂၀၀၀၀) ကျော်ခန့် ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊

(င) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ အရေးပေါ်ဘေးအန္တရာယ်စီမံခန့်ခွဲရေးအစီအစဉ်၊ အရေးပေါ် ကယ်ဆယ်ရေးအစီအစဉ်၊ လုံခြုံရေးအစီအစဉ်နှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှနှစ်စဉ်ရရှိလာမည့် အမြတ်ငွေ၏ (၂%) ခန့်ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင် ထိခိုက်မှုမရှိစေရန် ဆောင်ရွက်သွားမည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်တင်ပြပါရှိပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကာ လိုအပ်သော ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ်များကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပြုလုပ်ငန်းတည်ဆောက်လည်ပတ်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Volume Tableware Ltd. မှ ကြွေထည် ပန်းကန်ခွက်ယောက်များ ထုတ်လုပ်ခြင်းနှင့် ပြည်ပသို့တင်ပို့ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ဓါတုပစ္စည်းများကို အသုံးပြုဆောင်ရွက်ရသဖြင့် ကုန်ကြမ်းများသိုလှောင်ခြင်း၊ လုပ်ငန်းအဆင့်ဆင့်မှ ထွက်ရှိသည့် စွန့်ပစ်ပစ္စည်းနှင့်စွန့်ပစ်အရည်များ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင် ရေထု၊ လေထု၊ မြေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) စက်ရုံလည်ပတ်ခြင်းမှထွက်ရှိလာမည့် အမှုန်၊ အမွှားများ၊ ဆူညံသံများကြောင့်လေထုနှင့် အသံညစ်ညမ်းမှုဖြစ်ပေါ်ပြီး စက်ရုံဧရိယာပတ်ဝန်းကျင်ရှိ ပြည်သူများအား ကျန်းမာရေး ထိခိုက်စေခြင်း၊

(ဂ) လုပ်ငန်းသုံးစက်၊ ယာဉ်ယန္တယားများနှင့် စက်သုံးဆီအညစ်အကြေး စွန့်ပစ်ပစ္စည်း၊ အရည်များကြောင့် ရေ/မြေ ညစ်ညမ်းမှုဖြစ်ပေါ်နိုင်ပြီး စီမံကိန်းဧရိယာအနီးရှိ ပြည်သူတို့၏ကျန်းမာရေးအား ထိခိုက်မှုဖြစ်စေနိုင်ခြင်း။

(ဃ) စက်ရုံလည်ပတ်ရာတွင်ဘွိုင်လာမှထွက်ရှိလာမည့် အခိုးအငွေ့များကြောင့် လေထုညစ်ညမ်းခြင်းနှင့် စွန့်ပစ်အရည်/စွန့်ပစ်ပစ္စည်းများကို ပတ်ဝန်းကျင်ဆိုင်ရာ စံချိန်စံညွှန်းများနှင့်အညီ စနစ်တကျ စီမံခန့်ခွဲမှုမရှိခြင်းတို့ကြောင့် စက်ရုံဧရိယာပတ်ဝန်းကျင်ရှိ ပြည်သူများ၏ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Volume Tableware (Myanmar) Ltd. မှ ကြွေထည် ပန်းကန်ခွက်ယောက်များ ထုတ်လုပ်ခြင်းနှင့် ပြည်ပသို့တင်ပို့ခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြား အပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင် အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များ ကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီအဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသောနယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ် အခြေခံ၍ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများ အတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (En-

**vironmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်းအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

ဒု/၈/၁၇

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ပဲခူးတိုင်းဒေသကြီး
ရုံးလက်ခံ




To

**Chairman**
**Myanmar Investment Commission**

**Re: Exact location of the Volume Tableware (Myanmar) Ltd.'s leased land within No. 34 Heavy Industry (Tharwaddy) Factory**

With regards to the above subject matter, I, Dean Alexander Montgomery would like to provide the exact location of the Volume Tableware (Myanmar) Ltd.'s leased land and building within No. 34 Heavy Industry (Tharwaddy) Factory owned by No. 2 Heavy Industry Enterprise as follows;

| Sr. No | U Paing No. (ဦးပိုင်အမှတ်) | No. of acres leased by Volume Tableware (Myanmar) Ltd. |
|---|---|---|
| 1 | 46 | 1.86 |
| 2 | 47 | 0.90 |
| 3 | 48 | 1.14 |
| 4 | 58 | 5.12 |
| 5 | 59 (A) | 0.37 |
| 6 | 132 | 2.10 |
| Total | | 11.49 acres |

Sincerely,

Dean Alexander Montgomery
Managing Director
Volume Tableware (Myanmar) Ltd.
Passport Number: E4116990

15/F, King Palace Plaza, 52A Sha Tsui Road, Tsuen Wan, NT, Hong Kong
Tel.: 852-23084000 Fax: 852-23084001



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စက်မှုဝန်ကြီးဌာန**

M/1177
27/10

စာအမှတ်၊ ၁၅-စမ(၂) ၂၀၁၇-၂၀၁၈ ( ၁၉၈၅ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ အောက်တိုဘာလ ၂၆ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **အမှတ်(၃၄)အကြီးစားစက်ရုံ(သာယာဝတီ)အား(၂)ပိုင်းခွဲခြားငှားရမ်းခြင်းကိစ္စ**

ရည် ညွှန်း ချက်။ စက်မှုဝန်ကြီးဌာန၏ ၃၀.၈.၂၀၁၇ ရက်စွဲပါစာအမှတ်၊ ၁၅-စမ(၂)၂၀၁၇-၂၀၁၈(၁၄၃၈)

၁။ အမှတ်(၃၄)အကြီးစားစက်ရုံ(သာယာဝတီ)ရှိ ကြွေပြားထုတ်လုပ်မှုလိုင်း၊ မြေဧရိယာ (၆၃.၇၅)ဧကအား Family United Power Co.,Ltd. သို့ တစ်နှစ်လျှင် ကနဦးငှားရမ်းခငွေကျပ်(၁၂၄)သန်း၊ (၅၀+၁၀+၁၀)နှစ်ဖြင့်လည်းကောင်း၊ ပန်းကန်နှင့်ရေအိမ်သုံးပစ္စည်းထုတ်လုပ်မှုလိုင်း၊ မြေဧရိယာ(၁၁.၂၅)ဧကအား Volume Tableware (Myanmar)Ltd. သို့ တစ်နှစ်လျှင် ကနဦးငှားရမ်းခငွေကျပ်(၁၈၆)သန်း၊ (၂၅+၅+၅)နှစ်ဖြင့်လည်းကောင်း ငှားရမ်းဆောင်ရွက်ခွင့်ကို ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၁၅/၂၀၁၆)မှ သဘောတူခွင့်ပြုခဲ့ပါသည်။

၂။ Family United Power Co.,Ltd. အမည်မှ Family United Power Group of Co.,Ltd. အမည်ဖြင့် ပြင်ဆင်ပြောင်းလဲခွင့်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၉.၅.၂၀၁၇ ရက်စွဲဖြင့် ခွင့်ပြုခဲ့ပါသည်။

၃။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ အမှတ်(၃၄)အကြီးစားစက်ရုံ (သာယာဝတီ)ရှိ ကြွေပြားထုတ်လုပ်သည့်လိုင်း၊ **မြေဧရိယာ(၆၃.၇၅)ဧကအား Family United Power Group of Co.,Ltd.** သို့လည်းကောင်း၊ ပန်းကန်နှင့်ရေအိမ်သုံးပစ္စည်း ထုတ်လုပ်မှုလိုင်း၊ **မြေဧရိယာ(၁၁.၂၅)ဧကအား Volume Tableware (Myanmar)Ltd.** သို့လည်းကောင်း နှစ်ရှည်ရင်းနှီးမြှုပ်နှံဆောင်ရွက်ခွင့်ပြုပါရန် စက်ရုံ၏မြေယာပိုင်ဆိုင်မှုပုံစံ(၁၀၅/၁၀၆)နှင့် စက်ရုံ Layout Plan တို့ကို ပူးတွဲ၍ ရည်ညွှန်းချက်ပါစာဖြင့် ပေးပို့ခဲ့ပါသည်။

၄။ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊အမှတ်(၃၄)အကြီးစားစက်ရုံ(သာယာဝတီ)ရှိ ကုန်ထုတ်လိုင်း(၂)လိုင်း၏ ငှားရမ်းမြေစုစုပေါင်းဧရိယာမှာ(၇၅)ဧကဖြစ်သဖြင့် မြေတိုင်းတာရာတွင် ကြွေပြားထုတ်လုပ်သည့်လိုင်းမြေဧရိယာမှာ(၄၄.၆၃)ဧကသာရှိခြင်း၊ ပန်းကန်နှင့်ရေအိမ်သုံးပစ္စည်းထုတ်လုပ်မှုလိုင်း မြေဧရိယာမှာ (၁၁.၄၉) ဧကရှိခြင်းတို့ကြောင့် ငှားရမ်းမြေစုစုပေါင်းဧရိယာပြည့်မီရန်အတွက် မြေတိုင်းအဖွဲ့နှင့်ပြန်လည်တိုင်းတာ၍ ကြွေပြားထုတ်လုပ်သည့်လိုင်းအား မြေဧရိယာ (၆၃.၅၁)ဧကဖြင့်လည်းကောင်း၊ ပန်းကန်နှင့်ရေအိမ်သုံးပစ္စည်းထုတ်လုပ်မှုလိုင်းအား မြေ(၁၁.၄၉)ဧကဖြင့်လည်းကောင်း မြေစာရင်းပုံစံ(၁၀၅/၁၀၆)ထုတ်ယူရရှိပြီးဖြစ်ပါသည်။

၅။ သို့ပါ၍ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ အမှတ်(၃၄)အကြီးစားစက်ရုံ(သာယာဝတီ)ရှိ ကြွေပြားထုတ်လုပ်သည့်လိုင်း၊ **မြေဧရိယာ(၆၃.၅၁)ဧကအား** Family United Power Group of Co.,Ltd. သို့လည်းကောင်း၊ ပန်းကန်နှင့်ရေအိမ်သုံးပစ္စည်းထုတ်လုပ်မှုလိုင်း၊ **မြေဧရိယာ(၁၁.၄၉)ဧကအား** Volume Tableware (Myanmar)Ltd. သို့လည်းကောင်း နှစ်ရှည်ရင်းနှီးမြှုပ်နှံဆောင်ရွက်ခွင့်ပြုပါရန် စက်ရုံ၏ မြေယာပိုင်ဆိုင်မှု ပုံစံ(၁၀၅/၁၀၆) နှင့် စက်ရုံ Layout Plan တို့ကိုပူးတွဲ၍ ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

အမှတ်(၃၄)အကြီးစားစက်ရုံ(သာယာဝတီ)
ငှားရမ်းမည့် စက်ရုံဧရိယာ ဦးပိုင်အမှတ်များပြ ဇယား

| စဉ် | ဦးပိုင်အမှတ် | Volume သို့ ငှားမည့် ဧက | FUP သို့ ငှားမည့် ဧက | မှတ်ချက် |
|---|---|---|---|---|
| ၁ | ၃၉(က) | | ၀.၅၄ | |
| ၂ | ၄၆ | ၁.၈၆ | ၇.၅၀ | |
| ၃ | ၄၇ | ၀.၉၀ | ၁.၀၈ | |
| ၄ | ၄၈ | ၁.၁၄ | ၀.၀၃ | |
| ၅ | ၄၉ | | ၀.၀၃ | |
| ၆ | ၅၇ | | ၀.၈၅ | |
| ၇ | ၅၈ | ၅.၁၂ | ၁.၃၆ | |
| ၈ | ၅၉(က) | ၀.၃၇ | ၅.၁၄ | |
| ၉ | ၆၀(က) | | ၉.၆၆ | |
| ၁၀ | ၆၁(က) | | ၇.၃၄ | |
| ၁၁ | ၆၂(က) | | ၀.၆၁ | |
| ၁၂ | ၆၆(က) | | ၂.၁ | |
| ၁၃ | ၆၇(က) | | ၄.၈၂ | |
| ၁၄ | ၆၈(က) | | ၀.၃၁ | |
| ၁၅ | ၁၃၂ | ၂.၁၀ | ၂၂.၁၄ | |
| | စုစုပေါင်း | ၁၁.၄၉ | ၆၃.၅၁ | |

# အမှတ်(၃၄) အကြီးစားစက်ရုံ (သာယာဝတီ)

# Factory Layout






Volume Co.,Ltd သို့ ငှားရမ်းမည့်မြေနေရာ (၁၁.၄၉)ကေ

# အမှတ်(၃၄) အကြီးစားစက်ရုံ (သာယာဝတီ)
# Factory Layout







FUP Co.,Ltd သို့ ငှားရမ်းမည့်မြေနေရာ (၆၃.၅၁)ကေ